# ဆောယှာမသါ်

# အလွှန်နိုးနေပြီလား





မွတ်ဖ်သီ မုဟမ္မဒ် အာစွင်းမ်
နဒ်ဝီ၊ အဗွလ်ဟာစနီ၊ မဇွာဟေရီ

ကန့်သတ်



## စကားချီး

الحمد لله رب العالمين، والصلاة والسلام على سيدنا محمد على آله وصحبه أجمعين،أما بعد!

"ကေယာမသ် အလွန်နီးနေပြီလား"ဟူသည့် မေးခွန်းကို မကြာခဏဆိုသလို တွေးတောမိကြလိမ့်မည်။ စင်စစ် ကေယာမသ်ဟူသည့် ကမ္ဘာပျက်မည့်နေ့သည် မလွဲမသွေဖြစ်ပေါ်လာမည်ကိုမူကားမည်သည့် မွတ်စ်လင်မ်ကမျှ အငြင်းဝင်မည်မဟုတ်ပေ။ ကေယာမသ်ဖြစ်မည့်နေ့ကို အလ္လာဟ်အရှင်မြတ်မှတပါး မည်သူမျှမသိနိုင်ပေ။ သို့သော်လည်း ကြိုတင်ပြင်ဆင်နိုင်ကြရန်အလို့ငှာ ကေယာမသ်နေ့နီးလာလျှင် ဖြစ်ပေါ်လာမည့် လက္ခဏာများကို အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် ﷺ ထံမှတစ်ဆင့် ကျွန်ုပ်တို့အား အသိပေးထားပေသည်။

ထို့ကြောင့်အကြံပြုလိုသည်မှာ မလွဲမသွေ ကြုံရမည့် ကိစ္စတစ်ရပ်အတွက် ကြိုတင်ပြင်ဆင်ထားခြင်းသည်သာ အကောင်းဆုံးဖြစ်သည်။ ကျွန်ုပ်၏ ချစ်မိတ်ဆွေ 'မွဖ်သီမုဟမ္မဒ်အာဆွင်းမ်'မဇ္ဇာဟေ့ရီ၊ နဒ်ဝီ၊ အဗူလ်ဟစနီ သည် "ကေယာမသ်အလွန်နီးနေပြီလား"ဟူသည့်အမည်ဖြင့် ဤစာအုပ်ငယ်လေးကို ပြုစုခဲ့သည်။ ဟဒီးဆ်တော်များတွင် လာရှိသည့် ကေယာမသ်နေ့၏ လက္ခဏာများ၊ ကျွန်ုပ်တို့၏ အတိတ်၊ ပစ္စုပ္ပန်၊



အနာဂတ် တို့ကိုခြုံငုံသုံးသပ်ချက်များ၊ လမ်းညွှန်ချက်များ၊ နှစ်ဘဝ၊ နှစ်ဌာန အောင်မြင်မှုရရှိရန် တောင်းခံရမည့် တောင်းဆုဒိုအာများကို စုစည်းတင်ပြထားပါသည်။ အရွယ်အစားအားဖြင့် သေးငယ်သော်လည်း အချက်အလက်များ၊ တင်ပြပုံများသည် အလွန်ထိရောက်လှသည်ကို တွေ့ရပါသည်။ စာရှုသူအနေနှင့် ဤစာအုပ်ငယ်လေးကို လေ့လာဖတ်ရှုပြီးလျှင် အလွန်တန်ဖိုးကြီးမားသည့် တစ်စုံတစ်ရာကို ရရှိသွားမည်ဟု ယုံကြည်ပါသည်။

အလ္လာဟ်အရှင်မြတ်၊ ကျွန်ုပ်နှင့်တကွ၊ ပြုစုသူ၊ စာရှုသူနှင့် မွတ်စ်လင်မ်အားလုံးကို နှစ်ဘဝ၊ နှစ်ဌာန၏ အောင်မြင်မှုပန်းတိုင်အား ဆွတ်ခူးနိုင်စွမ်း ချီးမြှင့်တော်မူပါစေ။

မော်လဝီမုဟမ္မဒ်ဘင်န်အီဗရာဟင်မ်
AnnYongJi(Al-Kausari)





الحمد لله على جميع النعم ، والصلاة والسّلام علي سيّدنا محمد وآله وصحبه ما جرى المداد بالقلم . وبعد …

## ကေယာမသ် အလွှန်နီးနေပြီလား

"ကေယာမသ်နားနီးပြီ"ဟူသော သတိပေးသံကို မကြာခဏဆိုသလိုပင် ကျွန်ုပ်တို့ပတ်ဝန်းကျင်တွင် ကြားနေရသည်။ သို့သော် လက်ရှိမွတ်စ်လင်မ်တို့၏ နေပုံထိုင်ပုံများမှာ ကေယာမသ် မလာတော့ဘိအလား ဖြစ်ပျက်နေသည်မှာ အံ့သြဖွယ်ရာပင်ဖြစ်သည်။

ထို့ကြောင့် အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်တွင် အောက်ပါအတိုင်း မိန့်ထားသည်။ "လူသားတို့အား စစ်ဆေးရန် အချိန်ကာလသည် ၎င်းတို့နှင့်နီးကပ်၍ လာခဲ့လေပြီ။ အမှန်သော်ကား ၎င်းတို့သည် မျက်နှာလွှဲလျက် ပေ့ါဆမှု၌ပင် ရှိကြသေး၏။" (၂၁/၁)

ကျမ်းတော်မြတ်ကုရ်အာန်၏ ငါးပုံတစ်ပုံသည် ကေယာမသ်နှင့် ကမ္ဘာပျက်ပြီးနောက် ကြုံဆုံလာမည့် အာခိရသ်ခရီးစဉ် အကြောင်းကို ဖော်ပြထားခြင်းဖြစ်သည်။

ဟဒီးဆ်တော်များ၏ ကဏ္ဍတစ်ခုသည်လည်း ဤအကြောင်းဖြင့် ပတ်သက်နေသည်။

## နဗီကြိုတင်မှာကြားခဲ့သော ကေယာမသ်နိမိတ်လက္ခဏာများ

ကျွန်ုပ်တို့ကိုယ်တော်မြတ် ﷺ သည် နှစ်ပေါင်း(၁၄၃၉)နှစ်အလျင်ကပင် ကေယာမသ်၏ နိမိတ်လက္ခဏာများအကြောင်းကို ကြိုတင်မိန့်ကြားခဲ့သည်။



ထိုနိမိတ်လက္ခဏာများကို ပညာရှင်များက ပဏာမအရ အသေးစားနိမိတ်လက္ခဏာများနှင့်အကြီးစား နိမိတ်လက္ခဏာ များဟု ခွဲခြမ်းစိတ်ဖြာထားကြပြီး ထွက်ပေါ်မည့် ကာလအရ (၃)မျိုး ခွဲထားသည်။

(၁) အတိတ်တွင် ပေါ်ထွက်ခဲ့သော လက္ခဏာများ

ဥပမာ- နဗီတမန်တော်မြတ်ﷺ ပွင့်တော်မူခြင်း၊ လနှစ်ခြမ်း ခွဲခြင်း၊ မဒီနာရွှေမြို့တော်တွင် ကြီးကျယ်သောမီး ထွက်ခြင်း။

(၂) လက်ရှိကာလတွင် တွေ့နေရသော လက္ခဏာများ

ဥပမာ- မိဘအမိန့်ဖီဆန်ခြင်း၊ အရက်သေစာ သောက်စား ခြင်း၊ အတိုးအညွန့် စားသုံးခြင်း။

(၃) အနာဂတ်တွင် ထွက်ပေါ်လာမည့် လက္ခဏာများ

ဥပမာ - ဒဂ်ျဂျားလ်ထွက်ခြင်း၊ မြေကြီးမှ သတ္တဝါထွက်ခြင်း၊ မီးခိုးထွက်ခြင်း၊ ဟဇရသ် အီစာ عليه السلام ဆင်းသက် ခြင်း။ စသည်ဖြင့်---

### ကေယာမသ်နိမိတ်လက္ခဏာများကို သိထားခြင်း၏အကျိုး

နေ့ရက်များ ကုန်ဆုံးနေသည်နှင့်အမျှ လောကတွင် ကေယာ မသ်နိမိတ်လက္ခဏာများမှာ တဆင့်ပြီးတဆင့် ပေါ်ထွက်နေ သည်။ ကမ္ဘာကြီးသည်လည်း နေဝင်ချိန်ဘက်သို့ တိုးရွေ့ သွားနေ သည်။ ထို့ကြောင့် မွတ်စ်လင်မ်တိုင်းသည် ကုရ်အာန်ကျမ်းမြတ်နှင့် မှန်ကန်သောဟဒီးဆ်ကျမ်းလာ အဆိုများမှ ကိယာမသ်၏နိမိတ် လက္ခဏာများကို လေ့လာသိရှိထားသင့်သည်။ သို့မှသာ ကေယာ



မဿနေ့အတွက် အသင့်ပြင်နိုင်မည်။ မေ့လျော့နေမှုများကို သတိပေးရာရောက်မည်။ အချိန်မီ သောင်ဝ်ဗဟ်၊ အိစ်သိဂ်ဖားရ် ပြုထားနိုင်မည်။

**ပေါ်ထွက်ပြီးဖြစ်သော အသေးစား နိမိတ်လက္ခဏာများ**

၁။ ကိုယ်တော်မြတ် ﷺ ပွင့်ပေါ်တော်မူခြင်း။

၂။ ကိုယ်တော်မြတ် ﷺ ကွယ်လွန်တော်မူခြင်း။

၃။ လနှစ်ခြမ်းခွဲခြင်း။

၄။ ဆွဟာဗာများကွယ်လွန်တော်မူခြင်း။

၅။ မတ်စ်ဂျေ့ဒ်အက္ကစွာ အောင်နိုင်ခြင်း။

၆။ လူအများအပြား ကွယ်လွန်ခြင်း။

၇။ ပြဿနာများထွက်ပေါ်လာခြင်း။

၈။ ဆိွဖ်ဖီးန်စစ်ပွဲဖြစ်ပေါ်ခြင်း။

၉။ ခဝါရိဂျ်အဖွဲ့ထွက်ပေါ်လာခြင်း။

၁၀။ နဗီတုများပေါ်ထွက်ခြင်း။

၁၁။ လောကတွင် ချောင်လည်မှုများဖြစ်ခြင်း။

၁၂။ ဟေဂျားဇ်နယ်မှ မီးကြီးတစ်ခုထွက်ခြင်း။

၁၃။ တူရကီနိုင်ငံသားများ၏ စစ်ဆင်ခြင်း။

၁၄။ လူတို့ကို ကျာပွတ်ဖြင့်ရိုက်သည့် မတရားသူများထွက်ပေါ်ခြင်း။

၁၅။ သတ်ဖြတ်မှုအများအပြားဖြစ်ခြင်း။

၁၆။ သစ္စာသမာဓိ မရှိတော့ခြင်း။

၁၇။ မကောင်းသည့်စရိုက်များတွင် လွှန်လေပြီးသော အွမ္မသ်များ

၏နောက်လိုက်ခြင်း။

၁၈။ မိဘအမိန့်ဖီဆန်ခြင်း။

၁၉။ မလုံတလုံဝတ်ဆင်သောအမျိုးသမီးများ ပေါ်ထွက်လာခြင်း။

၂၀။ ဆိတ်ကျောင်းသားတို့သည် မြင့်စွင့်သည့် တိုက်တာများ ဆောက်လုပ်လာခြင်း။

၂၁။ စီးပွားရေးစနစ်သစ်များ တွင်ကျယ်လာခြင်း။

၂၂။ အမျိုးသမီးများသည် အမျိုးသားများနှင့် ရင်ဘောင်တန်းလျက် စီးပွားရေးလုပ်လာခြင်း။

၂၃။ မုသားသက်သေ ထွက်ဆိုခြင်း။

၂၄။ အသိဉာဏ်မဲ့မှုများ ပေါ်ထွက်လာခြင်း။

၂၅။ စေးနဲ့တွန့်တိုမှု များပြားလာခြင်း။

၂၆။ ဆွေမျိုးအဆက်ဖြတ်လာခြင်း။

၂၇။ အိမ်နီးခြင်းဝတ္တမျာ: မကျေပြွန်တော့ခြင်း။

၂၈။ ဇေနာ ပေါများလာခြင်း။

၂၉။ သစ္စာရှင်များ စွပ်စွဲခံရပြီး၊ လူလိမ်များ နေရာရလာခြင်း။

၃၀။ ဟရာမ်/ဟလာလ် မခွဲခြားတော့ခြင်း။

၃၁။ အများပိုင်ပစ္စည်းကို တစ်ဦးပိုင်အဖြစ်သုံးစွဲလာခြင်း။

၃၂။ အပ်နှံပစ္စည်းများကို အလွဲသုံးစားလုပ်ခြင်း။

၃၃။ ဇကားသ်ပေးဆောင်ခြင်းကို ဝန်ထုဝန်ပိုးဟုသတ်မှတ်လာခြင်း။

၃၄။ အလ္လာဟ်အတွက် ပညာမသင်ယူတော့ခြင်း။

၃၅။ ဇနီးအမိန့်နာခံပြီး မိဘအမိန့်ဖီဆန်ခြင်း။

၃၆။ သူငယ်ချင်းကိုချစ်ပြီး ဖခင်ကို ပစ်ထားခြင်း။

၃၇။ ဗလီထဲတွင် ဆူညံခြင်း။

၃၈။ သာသနာ့အမိန့်ဖီဆန်သူများ ခေါင်းဆောင်ဖြစ်လာခြင်း။
၃၉။ လူတို့အား ဦးဆောင်ဦးရွက်ပြုသူသည် အသေးသိမ်ဆုံး ဖြစ်နေခြင်း။
၄၀။ လူတစ်ဦးအား ၎င်း၏အဆိုးပြုမှုကို ကြောက်ပြီး ဂုဏ်ပေး ရခြင်း။
၄၁။ အမျိုးသားများ ပိုးထည်ဝတ်ဆင်လာခြင်း။
၄၂။ အရက်သေစာသောက်စားလာခြင်း။
၄၃။ တီးမှုတ်ကခုန်သော ပစ္စည်းများပေါများလာခြင်း။
၄၄။ လူတို့သည် သေခြင်းကို တမ်းတလာခြင်း။
၄၅။ မနက် မွှတ်စ်လင်မ်၊ ညနေ ကာဖိရ်ဖြစ်သည့်ခေတ် ရောက် လာခြင်း။
၄၆။ ဗလီဝတ်ကျောင်းတော်များကို သူ့ထက်ငါ အပြိုင်ချယ်သ လာခြင်း။
၄၇။ အိမ်များကို လိုအပ်သည်ထက် မွမ်းမံချယ်သလာခြင်း။
၄၈။ မိုးချိမ်းသံများကို မကြာခနကြားလာရခြင်း။
၄၉။ ရေးသားနည်းများ ထွန်းကားလာခြင်း။
၅၀။ နှုတ်ဖြင့်ငွေရှာရန်လွယ်ကူလာခြင်း။
၅၁။ စကားအပြိုင်ပြောခြင်းပေါ် ဂုဏ်ယူလာခြင်း။
၅၂။ ကုရ်အာန်အပြင် အခြားစာအုပ်များ ပြန့်နှံ့လာခြင်း။
၅၃။ ရုတ်တရက်သေဆုံးခြင်းများ ပေါများလာခြင်း။
၅၄။ အချိန်များလျင်မြန်စွာ ကုန်ဆုံးသွားခြင်း။
၅၅။ မဟာရ်၏ ပမာဏအလွန်မြင့်တက်သွားခြင်း။
၅၆။ မုသားပေါများလာခြင်း။

၅၇။ အစွလာမ်ကို တိုက်ခိုက်ရန် စီစဉ်ခြင်း။
၅၈။ ငလျင်ပေါ်များလာခြင်း။
၅၉။ အမျိုးသမီးများ ပေါလာခြင်း။
၆၀။ ထင်ထင်ပေါ်ပေါ် ဇေနာပြုလာခြင်း။
၆၁။ လူတို့တွင် ဝဖြိုးမှုများလာခြင်း။
၆၂။ မုသားသက်သေထွက်ဆိုမှုများလာခြင်း။
၆၃။ ကြီးနိုင်ငယ်နင်းပြုမှုများပြားလာခြင်း။
၆၄။ အရှင့်အမိန့်အတိုင်း ဆုံးဖြတ်မှုမပြုခြင်း။
၆၅။ ကတိမတည်တော့ခြင်း။
၆၆။ အမွေမခွဲတော့ခြင်း။
၆၇။ ကုသမရသည့် ရောဂါဆိုးများဖြစ်လာခြင်း။

**လက်ရှိနှင့် အနာဂတ်တွင် ပေါ်ထွက်မည့် နိမိတ်လက္ခဏာများ**

၁။ လူတိုင်းထံတွင် ဥစ္စာပစ္စည်းပေါများလာခြင်း။
၂။ မြေကြီးမှ သံယံဇာတများထွက်လာခြင်း။
၃။ ရုပ်ပျက်ဆင်းပျက်ဖြစ်သွားခြင်း။
၄။ ကမ္ဘာအနှံ့တွင် မြေငလျင်ကြီးတစ်ခုဖြစ်ပွားခြင်း။
၅။ အကျိုးမဖြစ်ထွန်းသော မိုးရွာခြင်း။
၆။ သစ်ပင်၊ကျောက်တုံးများနှင့် တိရိစ္ဆာန်များက စကားပြောခြင်း။
၇။ မွတ်စ်လင်မ်တို့နှင့် ယဟူဒီတို့စစ်မက်ဖြစ်ပွားခြင်း။
၈။ ဆီးရီးယားနိုင်ငံတွင် လူတို့စုရုံးရောက်ရှိသွားခြင်း။
၉။ ဗိုင်သွလ်မုကဒ်ဒတ်စ် ပြန်လည်စည်ကားသွားခြင်း။
၁၀။ တောင်များရွေ့လျားသွားခြင်း။



၁၁။ နှလုံးသားများမှ ကုရ်အာန်ရုတ်သိမ်းခံရခြင်း။
၁၂။ ဟဂ်ျမပြုတော့ခြင်း။
၁၃။ အရပ်မျိုးနွယ်စုအချို့ ရုပ်တုကိုးကွယ်လာခြင်း။
၁၄။ ကပ္ပလီတစ်ဦးက ကအ်ဗာကို ဖြိုချခြင်း။
၁၅။ ဒဂ်ျဂျားလ်ပေါ်ထွက်လာခြင်း။
၁၆။ အေမာမ်မဟ်ဒီပွင့်ပေါ်ခြင်း။
၁၇။ ဟဇရသ် အီစာ عليه السلام ဆင်းသက်ခြင်း။
၁၈။ မြေကြီးမှ သတ္တဝါကြီးတစ်ကောင်ထွက်လာပြီး မွတ်စ်လင်မ်၊ ကာဖိရ် တို့ကို ခွဲခြားပြီး အမှတ်အသားပြုခြင်း။
၁၉။ ယအ်ဂျူးဂ်ျမာအ်ဂျူးဂ်ျတို့ ထွက်ပေါ်ခြင်း။
၂၀။ ယီမင်နိုင်ငံမှ လေတစ်စင်းတိုက်ခတ်ပြီး မွတ်စ်လင်မ်အပေါင်း ကွယ်လွန်သွားခြင်း။ စသည်ဖြင့်

ဤနေရာတွင် မဖော်ပြထားသည့် အခြား နိမိတ်လက္ခဏာ များလည်း အမြောက်အမျာ ရှိသေးသည်။

## ကျွန်ုပ်တို့ ကြုံဆုံနေရသည့် ကာလ(၃)ခု

လူသားတိုင်းသည် အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ်ဆိုသည့် ကာလ(၃)ခုကို အသီးသီးပိုင်ဆိုင်ကြသည်။

### အတိတ်အတွက်ဘာတွေ လုပ်ကြမလဲ

အတိတ်တွင်မှားယွင်းခဲ့သော ခြေလှမ်းများကို ပြန်လည် တည့်မတ်ရန်၊ လစ်ဟာခဲ့သော ကွက်လပ်များကိုဖြည့်စွက်ရန် အရှင်မြတ်က အိစ်သိဂ်ဖားရ် (အမှားဝန်ချတောင်းပန်ခြင်းကို) သင်ပေးထားသည်။ လူသားတိုင်းသည် မှန်ကန်သော ဆုံးဖြတ်



ချက်ဖြင့် အရှင်မြတ်ထံ ဝန်ချတောင်းပန်ပါက အရှင်မြတ်သည်လည်း ၎င်းကို ခွင့်လွှတ်ချမ်းသာပေး မည်ဖြစ်သည်။ ကျွန်ုပ်တို့နဗီတမန်တော်မြတ် ﷺသည် အွမ္မသ်အား အိစ်သိဂ်ဖားရ်ပြုနည်းများစွာကို သင်ကြားပေးခဲ့သည်။ ယင်းတို့အနက် အကောင်းဆုံး အိစ်သိဂ်ဖားရ်ပြုနည်းမှာ အောက်ပါအတိုင်းဖြစ်သည်။

**ဆိုင်ယ်ယေ့ဒုလ် အိစ်သိဂ်ဖားရ် (သို့) ဂျန္နသ်ဖြစ်ရန် ကျင့်စဉ်**

**အကျိုးကျေးဇူး**

နံနက်နှင့် ညနေ့တွင် ယုံကြည်ချက်အပြည့်ဖြင့် အောက်ပါဒိုအာကို ဖတ်ရွတ်တောင်းခံပြီး ကွယ်လွန်သွားခဲ့သော် ထိုသူသည် ဂျန္နသ် စာရင်းဝင် ဖြစ်သွားမည်။

اَللّٰهُمَّ أَنْتَ رَبِّيْ لَاإِلٰهَ إِلَّا أَنْتَ خَلَقْتَنِيْ وَأَنَا عَبْدُكَ وَأَنَا عَلٰي عَهْدِكَ ، وَوَعْدِكَ مَااسْتَطَعْتُ ، أَعُوْذُبِكَ مِنْ شَرِّمَاصَنَعْتُ أَبُوْءُ لَكَ بِنِعْمَتِكَ عَلَيَّ وَأَبُوْءُ بِذَنْبِيْ ، فَاغْفِرْلِيْ فَإِنَّه لَا يَغْفِرُ الذُّنُوْبَ إِلَّاأَنْتَ .

(ဗိုခါရီကျမ်း ၊ ဟဒီးဆ်အမှတ် - ၆၃၀၆)

**အသံထွက်**

အလ္လာဟုမ္မ အန်သရဗ်ဗီ လားအိလားဟ အိလ္လာအန်သ ခလတ်(က်)သနီ၊ ဝအနအဗ်ဒုက ဝအနအလာအဟ်ဒိက၊ ဝဝအ်ဒိက မတ်စ်သသွက်အ်သု၊ အအူးဇုဗိက မင်န်ရှရ်ရိ မာစွနအ်သု၊ အဘူးအုလက ဗိနိအ်မသိက အလိုက်ယ၊ ဝအဘူးအု ဗိဇန်ဘီ၊ ဖဂ်ဖိရ်လီ ဖအင်း(န်)နဟူ လာယဂ်ဖိရှဇ် ဇူနူးဗ အိလ္လာအန်းသ။



**အစီပွါယ်**

အိုအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုး/မ၏ ဖန်ဆင်းရှင် ဖြစ်တော်မူပါသည်။ အရှင်မှတပါး အခြားခဝပ်ကိုးကွယ်ခြင်းခံထိုက်သူဟူ၍ အလျင်းမရှိပါ။ အရှင်မြတ်ကသာ ကျွန်တော်မျိုး/မအား ဖန်ဆင်းတော်မူခဲ့ပါသည်။ ကျွန်တော်မျိုး / မသည် အရှင်မြတ်၏ကျေးကျွန် ဖြစ်တော်မူပါသည်။ ကျွန်တော်မျိုး/မသည် တတ်နိုင်သရွေ့ အရှင်မြတ်နှင့် ပြုထားသည့် ကတိ၊ ပဋိဉာဉ်များကို စောင့်ထိန်းပါမည်။ ကျွန်တော်မျိုး/မသည် မိမိတို့ပြုခဲ့သမျှ မကောင်းမှုများမှ အရှင့်ထံ ခိုလှုံခွင့်တောင်းခံအပ်ပါသည်။ ကျွန်တော်မျိုး/မအား အရှင်မြတ်ချီးမြှင့်ထားတော်မူသော နိအ်မသ် စည်းစိမ်တော်များကိုလည်း အသိအမှတ်ပြုပါသည်။

ကျွန်တော်မျိုး/မတို့သည် မိမိတို့ကျူးလွန်ထားသည့် အကုသိုလ်များကိုလည်း ဝန်ခံပါသည်။ အရှင်မြတ်မှတပါး မည်သူမှ အကုသိုလ်များကို လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားနိုင်စွမ်းမရှိပါ။

**ပစ္စုပ္ပန်(လက်ရှိကာလ)မှာ ဘာလုပ်ရမလဲ**

ကျွန်ုပ်တို့သည် လက်ရှိကာလတွင် တစ်ခါတရံ ဒုက္ခနှင့် ကြုံရပြီး တစ်ခါတရံ သုခနှင့်ကြုံရသည်။ ဒုက္ခနှင့် ကြုံရပါက ဆွဗရ်ကို လက်ကိုင်ထားရမည်ဖြစ်ပြီး၊ သုခနှင့်ကြုံဆုံလိုက်ရပါက ရှုက်ရ် (အရှင်မြတ်ကို ကျေးဇူးတင်လိုက်ရမည်။) သာယာလှပသော ဘဝတစ်ခုပိုင်ဆိုင်လိုလျှင် အောက်ပါဒိုအာကို နေ့စဉ်ဖတ်ရွတ်သင့်သည်။



**အကျိုးကျေးဇူး**

ဟာဇရသ် အနတ်စ် ﵁ သခင် ဆင့်ပြန်ခဲ့သည်။ "ကိုယ်တော်မြတ် ﷺ သည် ကျွန်ုပ်အား(အောက်ပါ)စာသားများကို သင်ပေးခဲ့သည်။ ထိုစာသားများကြောင့် ရက်စက်သူ၏ ရက်စက်ကြမ်းကြုတ်မှုသည်လည်း ကျွန်ုပ်ကို နစ်နာစေမည်မဟုတ်။ လိုအပ်ချက်များသည်လည်း လွယ်ကူသွားမည်ဖြစ်ပြီး၊ မွတ်စ်လင်မ်တို့သည်လည်း ကျွန်ုပ်ကို ချစ်ခင်ပျူငှာစွာ တွေ့ဆုံကြလိမ့်မည်ဖြစ်သည်။

**ဒိုအာအနတ်စ်**

اَللّٰهُ أَكْبَرُ ، اَللّٰهُ أَكْبَرُ ، اَللّٰهُ أَكْبَرُ ، بِسْمِ اللّٰهِ عَلٰى نَفْسِىْ وَدِيْنِىْ ، بِسْمِ اللّٰهِ عَلٰى أَهْلِىْ وَمَالِىْ ، بِسْمِ اللّٰهِ عَلٰى كُلِّ شَيْءٍ أَعْطَانِىْ رَبِّىْ ، بِسْمِ اللّٰهِ خَيْرِ الْأَسْمَاءِ ، بِسْمِ اللّٰهِ رَبِّ الْأَرْضِ وَالسَّمَاءِ ، بِسْمِ اللّٰهِ الَّذِىْ لَايَضُرُّ مَعَ اسْمِهٖ دَاءٌ ، بِسْمِ اللّٰهِ افْتَتَحْتُ وَعَلَى اللّٰهِ تَوَكَّلْتُ اَللّٰهُ اَللّٰهُ رَبِّىْ لَاأُشْرِكُ بِه شَيْئاً ، أَسْأَلُكَ اللّٰهُمَّ بِخَيْرِكَ مِنْ خَيْرِكَ الَّذِىْ لَايُعْطِيْهِ غَيْرُكَ عَزَّ جَارُكَ وَجَلَّ ثَنَاءُ كَ وَلَاإِلٰهَ إِلاَّ أَنْتَ اجْعَلْنِىْ فِيْ عِيَاذِكَ وَجِوَارِكَ مِنْ كُلِّ سُوْءٍ وَمِنَ الشَّيْطٰنِ الرَّجِيْمِ ، أَللّٰهُمَّ إِنِّىْ أَسْتَجِيْرُكَ مِنْ جَمِيْعِ كُلِّ شَيْءٍ خَلَقْتَ وَأَحْتَرِسُ بِكَ مِنْهُنَّ وَأُقَدِّمُ بَيْنَ يَدَىَّ .



ထို့နောက်စူရဟ် အိခ်လားစ်ကို ဝဲ၊ ယာ၊ ရှေ့၊ နောက်၊ အပေါ်၊ အောက်တို့ကို ကြည့်လျက်(၆)ကြိမ်ဖတ်လိုက်ရမည်။

(ကန်ဇွလ်အွမ္မားလ်ကျမ်း ၊ ဟာဒီးဆ်အမှတ်-၅၀၂၁)

**အစိပ္ပါယ်**

အလ္လာဟ်အရှင်မြတ်သည်သာ အကြီးကျယ်ဆုံး၊ (၃ကြိမ်) ကျွန်ုပ်၏ အသက်ဇီဝန်၊ သာသနာရေး၊ မိသားစု၊ ဥစ္စာပစ္စည်းနှင့် အရှင်မြတ် ကျွန်ုပ်အား ချီးမြင့်ထားသောအရာတိုင်းနှင့် ပတ်သက်သည့်ကိစ္စအဝဝကို အရှင်မြတ်နာမတော်ဖြင့် ခိုလှုံခွင့် တောင်းခံပါသည်။ အကောင်းတကာ အကောင်းဆုံးနာမတော်ပိုင်ရှင်၊ မိုးနှင့်မြေကို ဖန်ဆင်းတော်မူသောအရှင်မြတ်၏ နာမတော်၏သဟဲဖြင့် ခိုလှုံခွင့် တောင်းခံပါသည်။ ထိုအရှင်မြတ် နာမတော်၏သဟဲ ရှိနေသရွေ့ မည်သည့်ရောဂါဘေးဘယမှ ဆိုးကျိုးမပြုနိုင်ပါ။ အရှင်မြတ်၏နာမတော်ဖြင့် ကိစ္စရပ်တိုင်းကို စတင်ဖွင့်လှစ်ပါသည်။ ထိုအရှင်မြတ်အပေါ်တွင် ယုံပုံအားကိုးအားထားပြုပါသည်။ (အို)- အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်ုပ်အား အဆင့်ဆင့် မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်ဖြစ်ပါသည်။ ထိုအရှင်မြတ်နှင့် မည်သည့်အရာကိုမှ တုဖက်နှိုင်းယှဉ်ခြင်း မပြုပါ။

အို-အရှင်မြတ်၊ အသင်အရှင်မြတ်အမှအပ မည်သူမှ ပေးစွမ်းနိုင်ခြင်းမရှိသည့် ကောင်းခြင်းများကို အရှင့်ထံမှ တောင်းခံအပ်ပါသည်။ အရှင့်ထံခိုလှုံသူသည်သာ အင်အားရှင်ဖြစ်ပါသည်။ အရှင်မြတ်၏ ချီးမွမ်းခန်းဖွင့်ခြင်းသည်သာ ကြီးကျယ်သော ကိစ္စရပ်ဖြစ်ပါသည်။ အရှင်မြတ်မှတပါး အခြားကိုးကွယ်ခြင်းခံထိုက်သူ အလျှင်းမရှိပါ။

အိုအရှင်မြတ်၊ ကျွန်တော်မျိုး/မအား အဆိုးဟူသမျှနှင့် နှင်ထုတ်ခြင်းခံရသော ရှိုက်သွာန်မိစ္ဆာကောင်၏ အန္တရာယ်မှ ကင်းလွတ်ရန် အရှင်မြတ်၏ ခိုလှုံခွင့်အရိပ် အောက်တွင် နေထိုင်ခွင့်ပေးသနားတော်မူပါ။ အို-အရှင် ကျွန်တော်မျိုး/မသည် အရှင်မြတ် ဖန်ဆင်းထားသမျှ အရာအားလုံး၏ (အန္တရာယ် ရန်စွယ်)မှ အရှင်မြတ်ထံ ကင်းရန်ဆုပန်ပါသည်။ ထိုအရာ အားလုံး၏အန္တရာယ်မှ အရှင်မြတ်ထံ လုံခြုံမှု တောင်းခံအပ် ပါသည်။ (ဤခိုလှုံခွင့်အလုံးစုံကို) ကျွန်တော်မျိုး ဦးထိပ်ပန်ဆင် ပါသည်။

**အသံထွက်**

ဗိစ်မိလ္လာဟိ အလာ နဖ်စီ၊ဝဒီးနီ၊ ဗိစ်မိလ္လာဟိ အလာအဟ်လီ ဝမာလီ၊ ဗိစ်မိလ္လာဟိ အလာကုလ်လိ ရှိုင်အင်န် အအ်သွာနီ ရဗ်ဗီ၊ ဗိစ်မိလ္လာဟိ ခိုင်ရိလ်အတ်စ်မားအိ၊ ဗိစ်မိလ္လာဟိ ရဗ်ဗိလ် အရ်သွေ့ ဝတ်စ်စမားအိ၊ ဗိစ်မိလ္လာဟိလ် လဇီ လာယသုရ်ရို့ မအတ်စ်မေ့ဟိဒါအွန်၊ ဗိစ်မိလ္လာဟိ အိဖ်သသဟ်သို့၊ ဝအလလ္လားဟိ သဝက္ကလ်သို့၊ အလ္လားဟု အလ္လားဟု ရဗ္ဗီ လာအုရ်ရှိကု ဗိဟီ ရှိုင်အန်၊ အတ်စ်အလုက အလ္လားဟုမ္မ ဗိခိုင်းရေ့က မင်န်ခိုင်းရေ့ကလ်လဇီ လာယုအ်သွီးဟိ ဂိုင်းရုက၊ အတ်ဇ့ ဂျားရုက၊ ဝဂျလ္လဆနားအုက ဝလားအေ့လားဟ အိလ္လာအန်သ၊ အိဂ်ျအလ်နီ ဖီအိယားဇေ့က၊ ဝဂျဝါးရေ့က မင်န်ကုလ်လေ့ စူးအင်န်၊ ဝမိနတ်ရ် ရှိုင်သွားနိရ်ရဂျီးမ်၊ အလ္လားဟွမ္မ အင်န်နီး အတ်စ်သဂျီးရုက မင်န် ဂျမီးအေ့ ကုလ်လေ့ရှိုင်အင်န် ခလတ်က်သ၊ ဝအဟ်သရေ့စို့ ဗိက ဂျမီး အန်မ် မင်န်ဟွန်းန၊ ဝအုကဒ်ဒိမု ဘိုင်းန ယဒိုင်ယ။

**အနာဂတ်အတွက် ဘာတွေလုပ်ကြမလဲ**

အနာဂတ်ဆိုသည်မှာ ကျွန်ုပ်တို့ မပိုင်ဆိုင်သောကာလတစ်ခု ဖြစ်သည်။ ထိုကာလတွင် မည်သည့်အခြေအနေနှင့် ကြုံဆုံရမည်ကိုလည်း မသိရှိနိုင်ပါ။ ထို့ကြောင့် အနာဂတ်တွင် အကောင်းများ ရရှိပြီး၊ အဆိုးများ၊ အနိဋ္ဌာရုံများမှ ခိုလုံခွင့်ရရန် ကိုယ်တော်မြတ် ﷺက အွမ္မသ်အား အောက်ပါဒိုအာကို သင်ကြားပေးခဲ့သည်။

اَللّٰهُمَّ إِنَّا نَسْأَلُكَ مِنْ خَيْرِ مَاسَأَلَكَ مِنْهُ نَبِيُّكَ مُحَمَّدٌ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ ، وَنَعُوْذُ بِكَ مِنْ شَرِّ مَا اسْتَعَاذَ مِنْهُ نَبِيُّكَ مُحَمَّدٌ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ ، وَأَنْتَ الْمُسْتَعَانُ وَعَلَيْكَ الْبَلاَغُ ، وَلاَحَوْلَ وَلاَ قُوَّةَ إِلَّا بِاللّٰهِ .

(သိရ်မေဇီကျမ်း၊ ဟာဒီးဆ်အမှတ်-၃၅၂၁)

**အသံထွက်**

အလ္လာဟုမ္မ အင်န်နာ နတ်စ်အလုက မင်န်ခိုင်းရေ့ မာစအလက မင်န်ဟု နဗီယ်ယုက မုဟမ္မဒွန် စွလ္လားဟု အလိုင်ဟိဝစလ္လမ်၊ ဝနအူးဇု ဗေ့က မင်န်ရှရ်ရေ့ မာစ်သအားဇ မင်န်ဟု နဗီယ်ယုက မုဟမ္မဒွန် စွလ္လားဟုအလိုင်ဟိဝစလ္လမ်၊ ဝအန်သလ် မုစ်သအားနု၊ ဝအလိုင်းကလ် ဘလားဂု၊ ဝလာဟောင်ဝ်လ ဝလာ ကုဝ်ဝသ အိလ္လာ ဗိလ္လားဟ်။

**အဓိပ္ပါယ်**

အို-အရှင်မြတ်၊ အရှင့်နဗီတမန်တော် မုဟမ္မဒ် ﷺ တောင်းခံခဲ့သော ဒိုအာများမှ အကောင်းတကာ အကောင်းဆုံးများကို

ကျွန်ုပ်တို့ အရှင့်ထံ တောင်းခံအပ်ပါသည်။ ထို့ပြင် အရှင့်နဗီ တမန်တော် မုဟမ္မဒ် ﷺ ခိုလှုံခွင့်တောင်းခံခဲ့သည်များမှ အဆိုး တကာ အဆိုးဆုံးများမှ ကျွန်ုပ်တို့ အရှင့်ထံ ခိုလှုံခွင့် တောင်းခံ အပ်ပါသည်။ အရှင်မြတ်သည်သာ အကူအညီတောင်းခြင်း ခံထိုက်တော်မူသော အရှင်ဖြစ်ပါသည်။ တောင်းခံသမျှကိုလည်း အရှင်မြတ်သာ ဖြည့်ဆည်းပေးနိုင်ပါသည်။ ကောင်းမှုပြုနိုင်စွမ်း၊ အပြစ်များမှ ရှောင်ကြဉ်နိုင်ရန် စွမ်းအားတို့သည်လည်း အရှင်မြတ် ချီးမြှင့်ပေးမှသာ ရရှိနိုင်ပါမည်။

**အကျိုးကျေးဇူး**

ဟဇရသ် အဗူအုမာမား ﷺ သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်တို့သည် ကိုယ်တော်မြတ် ﷺ အား အောက်ပါအတိုင်း လျှောက်ထားခဲ့သည်။ "အိုကိုယ်တော်သခင်- ကျွန်ုပ်တို့သည် ကိုယ်တော် တောင်းသမျှဒိုအာများကို လိုက်လံကျက်မှတ်နိုင်စွမ်း မရှိပါ။"ဟု လျှောက်ထားသောအခါ ကိုယ်တော်မြတ် ﷺ က "ငါ အသင်တို့ကို ဒိုအာပေါင်းချုပ် တစ်ခု သင်ပေးရမည်လော"ဟု မိန့်ကြားပြီး အထက်ပါဒိုအာကို သင်ကြား ပေးခဲ့သည်။

"ဤဒိုအာကို တောင်းဆိုလိုက်ခြင်းဖြင့် လောကီလောကုတ္တရာ နှစ်ဌာနရှိ ကောင်းခြင်းဟူသမျှကိုလည်း ရရှိမည်ဖြစ်ပြီး၊ မကောင်း ခြင်းဟူသမျှမှလည်း ခိုလှုံပြီး ဖြစ်သွားမည်။"ဟု သုဟ်ဖသွလ် အဟ်ဝဇီ ကျမ်းရှင်က ရေးသားထားသည်။

ဤဒိုအာသည် အကောင်းဆုံး၊ အပြည့်စုံဆုံးသောဒိုအာ ဖြစ်သည်ဟု မုလ္လာအလီကာရီ ﷺ သခင်ကြီးက မိမိ၏ မိရ်ကားသ် ကျမ်းတွင် ဖော်ပြထားသည်။

